

Form (5-B)

# THE REPUBLIC OF THE UNION OF MYANMAR

## Ayeyawady Region Investment Committee

## ENDORSEMENT

Endorsement No. AYY- 045/2020 Dated 10th March, 2020

This endorsement is issued by the Ayeyawady Region Investment Committee according to the section 25(d) of the Myanmar Investment Law–

(1) Name of Investor MYANMAR RICE TRADING COMPANY LIMITED

(2) Citizenship MYANMAR

(3) Residence Address CORNER OF BO TIKE CHUN STREET AND THANDEN STREET, LOT NO. 82-88, 49 WARD, WARTAYAR INDUSTRIAL ZONE, SHWEPYITHAR TSP, YANGON REGION.

(4) Name and Address of Principal Organization –

(5) Place of Incorporation –

(6) Type of Business SERVICES TO SUPPORT CULTIVATION, GRINDING, PRODUCING AND SELLING OF RICE

(7) Place(s) of Investment Project SERVICES TO SUPPORT IN MAWLAMYAING KYUN TSP, KYAIK LATT TSP, BOKALAY TSP AND PHYARPONE TSP OF THE AYEYAWADY REGION

(8) Amount of Foreign Capital NIL

(9) Period for Foreign Capital to be brought in NIL

(10) Total Amount of Capital (Kyat) 6000.000 MILLION

(11) Construction Period 6 MONTHS

(12) Validity of Endorsement 30 YEARS

(13) Form of Investment WHOLLY MYANMAR OWNED

(14) Name of Company Incorporated in Myanmar MYANMAR RICE TRADING COMPANY LIMITED

(Hla Moe Aung)

Chairman





# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## ဧရာဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ
## အတည်ပြုမိန့်

အတည်ပြုမိန့်အမှတ် – ဧရာ– ၀၄၅/၂၀၂၀ ၂၀၂၀ ပြည့်နှစ် မတ်လ ၁၀ ရက်

ဧရာဝတီတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ–၂၅၊ (ဃ) အရ ဤအတည်ပြုမိန့်ကို ထုတ်ပေးလိုက်သည် –

(၁) ရင်းနှီးမြှုပ်နှံသူအမည် MYANMAR RICE TRADING COMPANY LIMITED

(၂) နိုင်ငံသား မြန်မာနိုင်ငံသား

(၃) နေရပ်လိပ်စာ ဗိုလ်တိုက်ချွန်းလမ်းနှင့်သံဒင်းလမ်းထောင့် အကွက်အမှတ် ၈၂-၈၈၊ (၄၉) ရပ်ကွက်၊ ဝါးတရာစက်မှုဇုန်၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

(၄) ပင်မအဖွဲ့အစည်းအမည်နှင့်လိပ်စာ –

(၅) ဖွဲ့စည်းရာအရပ် –

(၆) ရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းအမျိုးအစား ဆန်စပါးစိုက်ပျိုးထုတ်လုပ်ခြင်း ၊ ကြိတ်ခွဲရောင်းချခြင်း အထောက်အကူပြုဝန်ဆောင်မှုလုပ်ငန်း

(၇) ရင်းနှီးမြှုပ်နှံသည့်အရပ်ဒေသ(များ) အထောက်အကူပြုဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်မည့် ဧရာဝတီတိုင်းဒေသကြီးအတွင်းရှိ မော်လမြိုင်ကျွန်းမြို့နယ် ၊ ကျိုက်လတ်မြို့နယ် ၊ ဘိုကလေးမြို့နယ်၊ ဖျာပုံမြို့နယ်များ။

(၈) နိုင်ငံခြားမတည်ငွေရင်းပမာဏ မရှိ

(၉) နိုင်ငံခြားမတည်ငွေရင်းယူဆောင်လာရမည့်ကာလ မရှိ

(၁၀) စုစုပေါင်းမတည်ငွေရင်းပမာဏ(ကျပ်) ၆၀၀၀.၀၀၀ သန်း

(၁၁) တည်ဆောက်မှု/ပြင်ဆင်မှုကာလ ၆ လ

(၁၂) အတည်ပြုမိန့် သက်တမ်း ၃၀ နှစ်

(၁၃) ရင်းနှီးမြှုပ်နှံမှုပုံစံ ရာခိုင်နှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု

(၁၄) မြန်မာနိုင်ငံတွင်ဖွဲ့စည်းမည့်ကုမ္ပဏီအမည် MYANMAR RICE TRADING COMPANY LIMITED

(လှမိုးအောင်)

ဥက္ကဋ္ဌ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**ရောဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ**

**OSS စုပေါင်းရုံး၊ မြက်တိုး၊ ပုသိမ်မြို့**

စာအမှတ်၊ ရေက/ အ-၀၄၈/အခြား/၂၀၂၀(၈၇၃၈)

ရက်စွဲ ၊ ၂၀၂၀ ပြည့်နှစ် မတ်လ ၁၀ ရက်

အကြောင်းအရာ။ **Myanmar Rice Trading Co., Ltd. မှ ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ဆန်စပါးစိုက်ပျိုးထုတ်လုပ်ခြင်း ၊ ကြိတ်ခွဲရောင်းချခြင်း အထောက်အကူပြု ဝန်ဆောင်မှုလုပ်ငန်း အတည်ပြုမိန့်အပေါ် ရောဝတီတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ ဆုံးဖြတ်ချက်**

ရည် ညွှန်း ချက်။ Myanmar Rice Trading Co., Ltd. ၏ ၁၀-၂-၂၀၂၀ ရက်စွဲပါ တင်ပြစာ

၁။ Myanmar Rice Trading Co., Ltd. မှ ရောဝတီတိုင်းဒေသကြီး အတွင်းရှိ မော်လမြိုင်ကျွန်းမြို့နယ် ၊ ကျိုက်လတ်မြို့နယ် ၊ ဘိုကလေးမြို့နယ် ၊ ဖျာပုံမြို့နယ်များတွင် ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ဆန်စပါးစိုက်ပျိုးထုတ်လုပ်ခြင်း ၊ ကြိတ်ခွဲရောင်းချခြင်း အထောက်အကူပြု ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရောဝတီတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ အတည်ပြုလျှောက်ထားလွှာ တင်ပြခြင်းအား ၂၀၂၀ ပြည့်နှစ် မတ်လ ၁၀ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရောဝတီတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ (၃/၂၀၂၀) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါဆုံးဖြတ်ချက်အရ ရောဝတီတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှု ကော်မတီသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေ၊ နည်းဥပဒေများကို ကျင့်သုံးလျက် Myanmar Rice Trading Co., Ltd. အား ဆန်စပါးစိုက်ပျိုးထုတ်လုပ်ခြင်း ၊ ကြိတ်ခွဲရောင်းချခြင်း အထောက်အကူပြု ဝန်ဆောင်မှုလုပ်ငန်းအား ဆောင်ရွက်နိုင်ရန်အတွက် အတည်ပြုမိန့်အမှတ် ၊ ရော - ၀၄၅ / ၂၀၂၀ ကို ထုတ်ပေးလိုက်သည်။

၂။ Myanmar Rice Trading Co., Ltd. အနေဖြင့် ဤအတည်ပြုမိန့် အရ လုပ်ငန်းဆောင်ရွက်ရာတွင် အောက်ပါအချက်များကို လိုက်နာဆောင်ရွက်ရမည်-

(က) Myanmar Rice Trading Co., Ltd. အနေဖြင့် ဤအတည်ပြုမိန့်အရ ဆန်စပါးစိုက်ပျိုးထုတ်လုပ်ခြင်း ၊ ကြိတ်ခွဲရောင်းချခြင်း အထောက်အကူပြု ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၇၅၊ ၇၇၊ ၇၈ အရ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ပြဋ္ဌာန်းထားသည့် အချက်များနှင့်အညီ ခံစားခွင့်ပြုနိုင်ရန် လျှောက်ထားနိုင်သည်။

(ခ) Myanmar Rice Trading Co., Ltd. သည် ဤအတည်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မူလအတည်ပြု လျှောက်ထားလွှာ၌ ဖော်ပြထားသည့် ဝန်ဆောင်မှု ရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်းချက်များ အဖြစ်ထားရှိ ဆောင်ရွက်အကောင်အထည်ဖော်ရမည်။

(ဂ) Myanmar Rice Trading Co., Ltd. အနေဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၆၅ နှင့် နည်းဥပဒေ အခန်း(၂၀) တို့တွင် ပြဋ္ဌာန်းထားသည့် ရင်းနှီးမြှုပ်နှံသူ၏ တာဝန်ဝတ္တရားများနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

(ဃ) Myanmar Rice Trading Co., Ltd. အနေဖြင့် ရင်းနှီးမြှုပ်နှံမှုပုံစံကို ပြောင်းလဲခြင်းကြောင့် ခွင့်ပြုမိန့်ရယူရန်လိုအပ်သည့် ရင်းနှီးမြှုပ်နှံမှု ဆိုင်ရာ သတ်မှတ်ချက်များနှင့် အကျုံးဝင်သွားပါက ယင်းပြောင်းလဲမှု မဆောင်ရွက်မီ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၉ အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက် တင်ပြရမည်။

(င) Myanmar Rice Trading Co., Ltd. သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပြဋ္ဌာန်းထုတ်ပြန် ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသား ပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

(စ) Myanmar Rice Trading Co., Ltd. သည် ရင်းနှီးမြှုပ်နှံမှုအား လုပ်ငန်းသက်တမ်းကာလအတွင်း အခြားပုဂ္ဂိုလ်တစ်ဦးဦးသို့ တစ်ဆင့် ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ အစုရှယ်ယာ လွှဲပြောင်းခြင်းနှင့် လုပ်ငန်းလွှဲပြောင်းခြင်းတို့ကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၇၂ နှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၁ အရ ဧရာဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှု ကော်မတီသို့ တင်ပြရမည်။

(ဆ) Myanmar Rice Trading Co., Ltd. သည် မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှု နည်းဥပဒေ ၁၉၆ အရ နှစ်စဉ်ဘဏ္ဍာရေးနှစ် ကုန်ဆုံးပြီးနောက် သုံးလအတွင်း သတ်မှတ်ချက်ပါ အသေးစိတ်များပါရှိသည့် နှစ်စဉ်အစီရင်ခံစာအား သတ်မှတ်ပုံစံဖြင့် ကုမ္ပဏီ၏ ဝက်(ဘ်)ဆိုဒ် (သို့မဟုတ်) ကော်မရှင်ရုံး၏ ဝက်(ဘ်) ဆိုဒ်သို့ တင်ပြရမည်။

(ဇ) Myanmar Rice Trading Co., Ltd. သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၇ အရ လုပ်ငန်း ဆောင်ရွက်နေစဉ် အတွင်း လုပ်ငန်း အစီရင်ခံစာကို သုံးလလျှင် တစ်ကြိမ် ကော်မရှင်က သတ်မှတ်တောင်းခံသည့် ပုံစံဖြင့် တင်ပြရမည်။

၃။ Myanmar Rice Trading Co., Ltd. အနေဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၆၅ (ဃ) အရ သက်ဆိုင်သည့် ပြည်ထောင်စုဝန်ကြီးဌာနများ၊ အစိုးရဌာနနှင့်အဖွဲ့အစည်းများမှ

လိုင်စင် သို့မဟုတ် ခွင့်ပြုမိန့်ရယူရန် လိုအပ်လျှင်ဖြစ်စေ၊ မှတ်ပုံတင်ရန် လိုအပ်လျှင်ဖြစ်စေ သက်ဆိုင်ရာဌာန၏ သတ်မှတ်ချက်များနှင့်အညီ ဆောင်ရွက်ရမည်။

၄။ Myanmar Rice Trading Co., Ltd. သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် လုပ်ငန်းသဘာဝအရဖြစ်စေ၊ အခြားလိုအပ်ချက်အရဖြစ်စေ သက်ဆိုင်သည့် ပြည်ထောင်စု ဝန်ကြီးဌာနများ၊ အစိုးရဌာနနှင့် အဖွဲ့အစည်းများမှ လိုင်စင် သို့မဟုတ် ခွင့်ပြုမိန့်ရယူရန် လိုအပ်လျှင်ဖြစ်စေ၊ သက်ဆိုင်ရာဌာနနှင့် မြေငှားရမ်းခြင်း စာချုပ်ချုပ်ဆိုသည်ဖြစ်စေ၊ မှတ်ပုံတင်ရန် လိုအပ်လျှင်ဖြစ်စေ သက်ဆိုင်ရာဌာန၏ သတ်မှတ်ချက်များနှင့်အညီ ဆောင်ရွက်ပြီး မိတ္တူ(၅) စုံစီအား ကော်မတီသို့ ပေးပို့ရမည်။

(လှမိုးအောင်)
ဥက္ကဋ္ဌ
ရောဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ

Myanmar Rice Trading Co., Ltd.
**မြန့်ဝေခြင်း**
ပြည်ထဲရေးဝန်ကြီးဌာန
ပြည်ထောင်စုအစိုးရအဖွဲ့ရုံးဝန်ကြီးဌာန
သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန
စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန
ရင်းနှီးမြှုပ်နှံမှုနှင့်နိုင်ငံခြားစီးပွားဆက်သွယ်ရေးဝန်ကြီးဌာန
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရောဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး
ညွှန်ကြားရေးမှူးချုပ်၊ စိုက်ပျိုးရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများမော်ကွန်းတိုက်ဦးစီးဌာန